**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊မရက- ၃/န- ၁၃၈၁/၂၀၁၆(၁၀၉၃ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၈ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါ သည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့်ဌာနများမှ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းများနှင့် မညီညွတ်သည့်ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၁၈.၈.၂၀၁၆
အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

အကြောင်းအရာ။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Guotai Guohua Garment Myanmar Limited<br>- Mr. Ding , Caibin (တရုတ်) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Jiangsu Guotai Int'l Group Guohua Corp., Ltd. (တရုတ်) ၉၉ %<br>Mr. Ding , Caibin (တရုတ်) ၁ % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့်အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၄၈၊မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်ဝေဝေကျော် |
| | မြေအကျယ်အဝန်း | - ၂.၂၇၃ ဧက ( ၉၁၉၈.၅၁၃ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၇၀ ပေ x ၃၅၀ ပေ ရှိ တစ်ထပ် အဆောက် အဦ(၁)လုံး |
| | မြေငှားရမ်းကာလ | - ကနဦး ၁၀ နှစ် (နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး) |
| ၃။ | နှစ်စဉ် မြေနှင့်အဆောက်အဦငှားရမ်းခ | - US $ ၅၁,၅၂၀<br>- အဆောက်အဦမပါမြေ ၁နှစ် တစ်စတုရန်းမီတာလျှင်US$၅ နှုန်း<br>- အဆောက်အဦပါမြေ ၁နှစ် တစ်စတုရန်း မီတာလျှင်US$ ၆ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ၁၀ နှစ် (နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်း မတည်ငွေရင်း | - US $ ၁.၂၀၅ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | - US $ သန်း |
| | ငွေသား | ၀.၁၅၀ |
| | စက်နှင့်စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | ၀.၇၃၉ |
| | ရုံးသုံး ပရိဘောဂ တန်ဖိုး (ပြည်တွင်း) | ၀.၀၁၃ |
| | မော်တော်ယာဥ် တန်ဖိုး | ၀.၀၂၀ |
| | ရုံးသုံးပရိဘောဂ(ပြည်တွင်း) | ၀.၂၈၃ |
| | **စုစုပေါင်း** | **၁.၂၀၅** |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၈၂၀ ဦး |
| | ပြည်တွင်း | - ၈၀၀ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | - ၂၀ ဦး( ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာ US$ ၈၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၃,၂၀၀ ) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US$ ၅.၆၄ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US$ ၅.၄၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | US$ ၀.၁၈ သန်း |

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) ဝင်ငွေခွန် | - US$ ၅၈,၇၂၉ |
| | အရင်းကြေကာလ | - ၄ နှစ် ၉ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၇.၅၉ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၂,၆၄၀,၀၀၀ KWH per Year |
| ၁၁။ | ထုတ်လုပ်မှု နှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (pcs) | CMP လက်ခနှုန်း (US $/PCS) |
|---|---|---|
| Jacket | ၂၉၂,၇၈၉ | ၄.၄၀ |
| Pants | ၅၈၅,၅၇၈ | ၂.၇၅ |
| Shirt | ၄၃၉,၁၈၄ | ၂.၂၀ |
| Coat | ၁၄၆,၃၉၅ | ၅.၅၀ |
| Parka | ၁၄၆,၃၉၅ | ၄.၄၀ |
| Blouse | ၁၄၆,၃၉၅ | ၂.၂၀ |

၁၂။ အခြား

- Guotai Guohua Garment Myanmar Limited ၏ သင်းဖွဲ့ မှတ်တမ်း၊ သင်းဖွဲ့ စည်းမျဉ်း၊ ကုမ္ပဏီ အမည်စစ်စာရွက်၊ ဒါရိုက်တာစာရင်း နှင့် Passport မိတ္တူများ၊ မြေပိုင်ရှင် ဒေါ်ဝေဝေကျော်၏ နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ) တို့ကို တင်ပြထားပါသည်။
- မြေပိုင်ရှင် ဒေါ်ဝေဝေကျော်နှင့် Guotai Guohua Garment Myanmar Limited တို့ချုပ်ဆိုမည့် မြေနှင့် အဆောက် အဦ ငှားရမ်းခြင်း သဘောတူစာချုပ် မူကြမ်း၊ (မြေပုံမိတ္တူ)နှင့် အဆောက်အဦပုံများ အား ပူးတွဲတင်ပြ ထားပါသည်။
- Jiangsu Guotai Int'l Group Guohua Corp., Ltd. သည် ငွေရေးကြေးရေး အထောက်အထားအဖြစ် တရုတ်နိုင်ငံရှိ China Construction Bank Corporation ဘဏ် တွင် ၁၈-၇-၂၀၁၆ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂,၃၆၂,၈၈၄.၅၁ ရှိကြောင်း ဘဏ် အထောက်အထား နှင့်တို၊ မိခင်ကုမ္ပဏီ Jiangsu Guotai Int'l Group Guohua Corp., Ltd. သည် Account No.၃၂၁၄၀၁၁၀၀၀၂၂၉၆၇၉၇၇ ဖြင့်၂၉-၇-၂၀၁၆ ၌ အမေရိကန် ဒေါ်လာ ၁၀,၀၈၈,၀၀၃.၉၉ ရှိကြောင်း Bank Statement နှင့်တို၊ မိခင်ကုမ္ပဏီ Jiangsu Guotai Int'l Group Guohua Corp., Ltd.၏ ၂၀၁၄ ခုနှစ် နှင့် ၂၀၁၅

| | | |
|---|---|---|
| | | ခုနှစ် တို့ အတွင်း Profit Statement နှိုဘြိ ဘို့အား တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့်ပစ္စည်း တစ်ခုချင်းစီ၏ Norm တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့်ပစ္စည်းများ၏ ကုန်ကြမ်းစာရင်း များကိုလည်း တင်ပြထားပါသည်။<br>- နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားပါသည်။<br>- အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂၁-၃-၂၀၁၆)ရက်နေ့တွင် အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ ဖြင့်ထုတ်ပြန်ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- Corporate Social Responsibility (CSR) အဖြစ် နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၂ % ကိုသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှုအစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပြည်ပဝန်ထမ်းများ အတွက် ဝင်ငွေခွန် နှင့် ပြည်တွင်းဝန်ထမ်း ၁နှစ် လစာ ကျပ် သိန်း ၄၈ ထက် ကျော်လွန်ပါက ဝင်ငွေခွန် ထမ်းဆောင်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုစာတို့ကို တင်ပြ ထားပါသည်။<br>- ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန ၊ စက်မှု ဝန်ကြီးဌာန၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီတို့သို့ သဘောထားမှတ်ချက်များ တောင်းခံမည် ဖြစ်ပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | - Guotai Guohua Garment Myanmar Limited နှင့် တရုတ်နိုင်ငံ ရှိ Jiangsu Guotai Int'l Group Guohua Corp., Ltd. တို့အကြား ချုပ်ဆိုမည့် Processing Contract အား တင်ပြထားပါသည်။<br>- Jiangsu Guotai Int'l Group Guohua Corp., Ltd. သည် (၁၃-၁-၂၀၁၆) ရက်နေ့တွင် တရုတ်ပြည်သူ့ သမ္မတနိုင်ငံ၌ မှတ်ပုံတင်အမှတ်- ၃၂၀၅၈၂၀၀၀၂၀၁၆၀၁၁၃၀၁၇၂ ဖြင့် မှတ်ပုံတင်ထားသော ကုမ္ပဏီ၏ Business License အထောက် |

အထား နှိုင်း (မိတ္တူ) တင်ပြထားပါသည်။

- မိခင်ကုမ္ပဏီ Jiangsu Guotai Int'l Group Guohua Corp., Ltd.၏ ၂၅-၆-၂၀၁၆ ရက်စွဲဖြင့် ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း၊ မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့် Guotai Guohua Garment Myanmar Limited အတွက် Shareholder (Director) အဖြစ် Mr. Ding, Caibin နှင့် Mr. Zhou Qianhao တို့ကို ခန့်အပ်သည့်စာ၊ မိခင်ကုမ္ပဏီ Jiangsu Guotai Int'l Group Guohua Corp., Ltd.၏ ၆-၄-၁၉၉၄ ရက်စွဲဖြင့် လုပ်ငန်း ဖွဲ့စည်းခြင်း အထောက်အထား တို့ကို တင်ပြထားပါသည်။
- Guotai Guohua Garment Myanmar Limited ၏ ထုတ်လုပ်မည့် ပစ္စည်းနမူနာ ဓါတ်ပုံများကို တင်ပြထားပါသည်။
- အဆိုပြုလွှာတွင် နေ့စွဲများ တပ်ထားခြင်း မရှိပါ။
- Annex 3, Sr. No, 30 တွင် Electronic စာလုံးပေါင်းပြင်ရန်၊ Sr. No. 38 တွင် UPS ၏ Load အားဖော်ပြပေးရန်၊ Sr. No. 39,Sr. No. 46 Sr. No. 47, Sr. No. 49, Sr. No. 52 တို့တွင် အသုံးအနှုန်း ပြင်လည်စိစစ် တင်ပြပေးရန်။
- Annex 6, Sr. No, 11 နှင့် Sr. No, 12 တို့တွင် တွက်ချက်မှု အား စိစစ်ပေးရန်။
- Annex 11, Fuel Charges နှင့် Miscelleneous တို့ ၂ခါ ပါဝင်နေပါသဖြင့် စိစစ်တင်ပြပေးရန်။
- Annex 13, Dicount အစား Discount ဟု ပြင်ဆင်တင်ပြ ပေးရန်။
- မြန်မာ (ကျပ်)ငွေ နှင့် အမေရိကန် (၁) ဒေါ်လာငွေလဲလှယ်နှုန်း ဖော်ပြထားခြင်းမရှိပါ။
- မြေငှားစာချုပ်(မူကြမ်း)တွင် မြေပိုင်ရှင် ဒေါ်ဝေဝေကျော် ၏ မှတ်ပုံတင်အမှတ် ထည့်သွင်း ဖော်ပြပေးရန်၊ ကုမ္ပဏီ အမည် ပြန်လည် စိစစ်ပေးရန်၊ Garments အစား Garment ဟု ပြင်ဆင် တင်ပြပေးရန်။
- ကမကထပြုသူ Mr. Ding , Caibin (တရုတ်)၏ ငွေကြေး အထောက်အထားအား တင်ပြထားခြင်းမရှိပါ။
- အဆိုပြုချက်တွင် ငွေကြေး အထောက်အထားနှင့် ကုမ္ပဏီ အထောက် အထားတို့အား တင်ပြရာတွင် မူရင်း တရုတ်ဘာသာ နှင့် အင်္ဂလိပ် ဘာသာ (နှိုင်း) တို့ဖြင့်ပူးတွဲတင်ပြထားပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၀၂၈ စာအမှတ်၊မရက-၃/န- ၁၃၈၀/၂၀၁၆(၁၁၀၂)
ဖက်(စ်)- ၀၁-၆၅၈၀၄၁ ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၂ ရက်

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်ကို ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၂ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၁/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါ သည်။

၂။ ၎င်းအဆိုပြုလွှာအပေါ် ဖြည့်စွက်ပြင်ဆင်ရမည့် အချက်များကို ဆက်လက်အကြောင်းကြား မည်ဖြစ်ကြောင်းနှင့် အဆိုပြုလွှာကို လက်ခံကြောင်း အကြောင်းပြန်ကြားပါသည်။

22/8/2016

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

Guotai Guohua Garment Myanmar Limited
မြေကွက်အမှတ်-၄၈၊မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊
ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊
**ရန်ကုန်တိုင်းဒေသကြီး**

မိတ္တူကို
နိုင်ငံခြားကုမ္ပဏီဌာနခွဲ
ရုံးလက်ခံ/ မျှောစာတွဲ

THE REPUBLIC OF THE UNION OF MYANMAR
**MYANMAR INVESTMENT COMMISSION**
**PROPOSAL ASSESSMENT TEAM**
NO.1, THITSAR ROAD, YANKIN TOWNSHIP, YANGON

☎ -01-658128
🖷- 01-658141

Our ref: MIC-3/FI-1381/2016( 1102 )
Date : 22 August 2016

**Guotai Guohua Garment Myanmar Limited**
**Plot No. 48, Myay Taing Block No.24,**
**Ngwe Pin Lal Industrial Zone,**
**Hlaing Thayar Township,Yangon Region**

Subject: **Reply on Acceptance of Investment Proposal**

Reference: Guotai Guohua Garment Myanmar Limited Letter dated on 17-8-2016.

Regarding to the captioned subject, your investment proposal application submitted on 17-8-2016 is accepted by Proposal Assessment Team, at its meeting 31/2016 held on 22-8-2016.

In addition, necessary information and facts to be corrected and added on your proposal will be continuously informed as per decision of Proposal Assessment Team.

22/8/2016

Yours sincerely,

for Team Leader
(Soe Myint Aung, Director)

cc: Company Administration Division (Foreign Company)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၉၅-၁-၆၅၈၁၂၈
🖷 -၉၅-၁-၆၅၈၁၄၁

စာအမှတ်၊ မရက-၃/န-၁၃၈၁/၂၀၁၆( ၁၁၂၄ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၃ ရက်

သို့

**ကုမ္ပဏီများညွှန်ကြားမှုဌာန**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါ သည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုချက်တင်ပြလာမှုအား သိသာနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

23/8/16

အတွင်းရေးမှူး(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/န-၁၃၈၁/၂၀၁၆(၁၁၃၀)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၆ ရက်

သို့

အကြောင်းအရာ။ **အဆိုပြုလွှာတင်ပြရာတွင် လိုအပ်ချက်များ အကြောင်းကြားခြင်း**

ရည် ညွှန်း ချက် ။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ လူကြီးမင်းတို့ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ သို့ ကနဦးအဆိုပြုလွှာ တင်ပြရာတွင် အောက်ပါ လိုအပ်ချက်များ ရှိနေပါသည်-

(က) ကမကထပြုသူ Mr. Ding , Caibin (တရုတ်)၏ ငွေကြေး အထောက်အထားအား တင်ပြပေးရန်။

(ခ) မြန်မာ (ကျပ်)ငွေ နှင့် အမေရိကန် (၁) ဒေါ်လာငွေလဲလှယ်နှုန်း ဖော်ပြပေးရန်။

(ဂ) Annex 11, Fuel Charges နှင့် Miscelleneous တို့ ၂ခါ ပါဝင်နေပါသဖြင့် စိစစ်တင်ပြပေးရန်။

(ဃ) မြေငှားစာချုပ် (မူကြမ်း)တွင် Article 24 အဖြစ် Map of Land ခေါင်းစဉ်ဖြင့် Clause တစ်ခု ထပ်မံထည့်သွင်းဖော်ပြပေးရန်။

(င) မြေငှားစာချုပ်(မူကြမ်း)တွင် မြေပိုင်ရှင် ဒေါ်ဝေဝေကျော် ၏ မှတ်ပုံတင်အမှတ် ထည့်သွင်း ဖော်ပြပေးရန်၊ ကုမ္ပဏီ အမည် ပြန်လည် စိစစ်ပေးရန်။

(စ) Annex 3, Sr. No, 30 တွင် Electronic စာလုံးပေါင်းပြင်ရန်၊ Sr. No. 38 တွင် UPS ၏ Load အားဖော်ပြပေးရန်၊ Sr. No. 39,Sr. No. 46 Sr. No. 47, Sr. No. 49, Sr. No. 52 တို့တွင် အသုံးအနှုန်း ပြန်လည်စိစစ် တင်ပြပေးရန်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုလွှာတွင် ပြင်ဆင်ရမည့် အချက်များကို ပြင်ဆင်ပြီးပြန်လည် တင်ပြရန် အကြောင်းကြားပါသည်။

26.8.16.

26/8/16

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

Guotai Guohua Garment Myanmar Limited

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

၂-၁၁-၂၀၁၂ နေ့တွင် ပြဋ္ဌာန်းခဲ့သည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေပိုင်ရှင်ထံမှ ငှားရမ်းဆောင်ရွက်သည့်
ကုမ္ပဏီများစာရင်း

| စဉ် | PAT အကြိမ်/ရက်စွဲ | ကုမ္ပဏီ အမည် | လုပ်ငန်းအမျိုးအစား/တည်နေရာ | စုစုပေါင်း မြေ အကျယ် အဝန်း | အဆောက်အဦ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm/US$) | ငှားရမ်းမည့် နှစ် | မြေဂရန်ခွင့်ပြုမှု | | | သဘောထား များ |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | | | | အမည် | ခွင့်ပြု ရက်စွဲ | ခွင့်ပြု ကာလ (နှစ်) | |
| | ၃၁/၂၀၁၆ (၂၂-၈-၂၀၁၆) | Guotai Guohua Garment Myanmar Limited | - CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း<br><br>-မြေကွက်အမှတ်-၄၈၊မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | - ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်း မီတာ) | - ၁၇၀ ပေ x ၃၅၀ ပေ ရှိ တစ်ထပ် အဆောက်အဦ(၁)လုံး | - US $ ၅၁,၅၂၁<br>- အဆောက်အဦ မပါမြေ ၁နှစ် တစ်စတုရန်း မီတာလျှင် US$ ၅ နှုန်း<br>- အဆောက်အဦ ပါမြေ ၁နှစ် တစ်စတုရန်း မီတာလျှင် US$ ၆ နှုန်း | ၁၀ နှစ် (နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး) | ဒေါ်ဝေဝေကျော် | ၂၁-၁၁-၂၀၀၅ | နှစ် ၆၀ | (၁) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့<br>(၂) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန<br>(၃) စက်မှုဝန်ကြီးဌာန<br>(၄) CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ |

ကန့်သတ်

Inv-2

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၇) ရက်၊ နံနက် ၉:၀၀ နာရီတွင် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

ဒေါက်တာသန်းမြင့် — ဒုတိယဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးထွန်းထွန်းဦး — အဖွဲ့ဝင်
ပြည်ထောင်စုရှေ့နေချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

ဦးခင်မောင်ရီ — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ဦးတိုးအောင်မြင့် — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးထွန်းထွန်းနိုင် — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးဌေးချွန် — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူးချုပ်(ငြိမ်း)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဦးကျော် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး(ငြိမ်း)
အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ဆက်လက်၍ ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဒေါက်တာသန်းမြင့်က ပဲခူးတိုင်း ဒေသကြီးမှ စက်ရုံအတွက်လိုအပ်သော လျှပ်စစ်မီးကို ပေးရန်အခြေအနေရှိ-မရှိမေးမြန်းရာ ပဲခူးတိုင်း ဒေသကြီး ပဲခူးတိုင်းဒေသကြီးဝန်ကြီးချုပ် ဦးဝင်းသိန်းက လျှပ်စစ်နှင့်ပတ်သက်၍ ပင်မဓာတ်အား လိုင်းမှ ပေးလျှင်ရကြောင်း၊ ကော်မရှင်မှ သေချာစိစစ်ပေးရန်လိုကြောင်း၊ လေဆိပ် Facilities တွင် သုံးစွဲသည့် Solar Energyမှ ရနိုင်ကြောင်း၊ Logistic Hubs များလည်းရှိကြောင်း၊ ၎င်းတို့နှင့် ပတ်သက်သည့် Business Centerများ စသည့်တို့ရှိကြောင်း၊ လျှပ်စစ်ရရှိရေးအတွက် မည်သည့် ကုမ္ပဏီကိုမဆို သုံးသပ်၍ ကော်မရှင်မှ ခွင့်ပြုပေးလျှင်ကောင်းကြောင်း၊ တိုင်းဒေသကြီးအစိုးရ ဖက်မှလည်း စစ်ဆေးပေးမည်ဖြစ်ကြောင်း၊ Power Stability ၊ Power Supply နှင့် Water ကို ကုမ္ပဏီမှလိုအပ်၍ တင်ပြပါက စိစစ်ပေးစေလိုကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်Perfect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင် အစားအစာနှင့် အခြားတိရိစ္ဆာန် အစားအစာများ အား ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၄။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dishang Kenny (Myanmar) Garment Company Limited၊ Jiangsu Holly (Myanmar) Industry Company Limited နှင့် Guotai Guohua Garment Myanmar Limited တို့မှ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အဆိုပြုလုပ်ငန်းများနှင့် ပတ်သက်၍ လုပ်ငန်းအမျိုးအစား၊ ဆောင်ရွက်မည့်လုပ်ငန်း၊ စက်ရုံ၏တည်နေရာ၊ ရင်းနှီးမြှုပ်နှံမှု သက်တမ်း၊ ရင်းနှီး မြှုပ်နှံမှုပမာဏ၊ တည်ဆောက်ရေးကာလ၊ ခန့်ထားမည့် ဝန်ထမ်းအင်အား၊ ကုန်ကြမ်း တင်သွင်းမည့်နိုင်ငံ၊ ကုန်ချောတင်ပို့မည့်နိုင်ငံစသည့်တို့နှင့်ပတ်သက်၍ ရှင်းလင်းတင်ပြပြီး သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ သဘောထားမှတ်ချက်များလည်း ရရှိထားပြီးဖြစ်ကြောင်း၊ အဆိုပြုချက်စိစစ်ရေး အဖွဲ့မှလည်း သေချာစိစစ်ထားပြီးဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dishang Kenny (Myanmar) Garment Company Limited၊ Jiangsu Holly (Myanmar) Industry Company Limited နှင့် Guotai Guohua Garment Myanmar Limited တို့မှ CMP စနစ် ဖြင့်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံး ဖြတ်ပါသည်။

မေးမြန်းရာ ကော်မရှင် အတွင်းရေးမှူးက ဥပဒေတွင် Rule မထွက်မီ လက်ရှိ Rule ကိုပဲ အသုံးပြုမည်ဟုပါကြောင်း၊ ဘဏ္ဍာရေးနှစ်အစတွင် နည်းဥပဒေဆွဲပြီး တိုင်းဒေသကြီး/ ပြည်နယ်များတွင် ရှင်းလင်းမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

| ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
| --- | --- |
| ၂၂။ အစည်းအဝေးမှအောက်ဖော်ပြပါတို့ကိုဆုံးဖြတ်ပါသည် - | |
| (က) ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်Perfect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင် အစားအစာနှင့် အခြားတိရိစ္ဆာန် အစားအစာများအား ထုတ်လုပ်ခြင်း နှင့်ရောင်းချခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ခ) ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dishang Kenny (Myanmar) Garment Company Limited၊ Jiangsu Holly (Myanmar) Industry Company Limited နှင့် Guotai Guohua Garment Myanmar Limited တို့မှ CMP စနစ်ဖြင့်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဂ) ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Allin Company Limited မှ CMP စနစ်ဖြင့် တစ်ပိုင်းတစ်စ သိုးမွေးထည်နှင့် သိုးမွေးထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဃ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sonha Myanmar International Ltd.တည်ထောင်ကာ စတီးတိုင်ကီနှင့် ပလတ်စတစ်တိုင်ကီများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (င) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southeastasianet Technologies Myanmar Co., Ltd. မှ Providing the connectivity, internet, content delivery & application services with VSAT system လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၉၅-၁-၆၅၈၁၂၈
🖷 -၉၅-၁-၆၅၈၁၄၁

စာအမှတ်၊ မရက- ၃/န-၁၃၈၁/၂၀၁၆ (၁၁၄၂ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၃၁ ရက်

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအား ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၁/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးမှ အောက်ပါ အတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) မြေငှားစာချုပ်(မူကြမ်း)နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများ ပြင်ဆင်တင်ပြရန်။

(ခ) Investment Structure ပြန်လည်စိစစ်တင်ပြရန်။

၂။ သို့ဖြစ်ပါ၍အထက်ပါဆုံးဖြတ်ချက်နှင့်အညီစိစစ်ပြီး ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

Guotai Guohua Garment Myanmar Limited
**မြေကွက်အမှတ်-၄၈၊မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊**
**ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊**
**ရန်ကုန်တိုင်းဒေသကြီး**

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

Phae Soo
09 420747226

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈　　　　　စာအမှတ်၊ မရက-၃/န-၁၃၈၁/၂၀၁၆(၁၁၈ )
🖷 - ၀၁-၆၅၈၁၄၁　　　　　ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၄ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ အခန်း(၆) အပိုဒ်(၄၄) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို ဆောလျင်စွာ စိစစ်ပေးရမည် ဖြစ်ပါသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အောက်ပါသဘောထားမှတ်ချက်အား ဤစာလက်ခံရရှိသည့် နေ့မှ **ခုနစ်ရက်အတွင်း** ဝန်ကြီးချုပ် (သို့မဟုတ်) ဝန်ကြီးချုပ်က တာဝန်ပေးအပ်သူ တစ်ဦးဦးက လက်မှတ်ရေးထိုးပြန်ကြားပေးပါရန် အဆိုပြုလွှာ တစ်စုံအား ပူးတွဲ ပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံ အပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်း ရှိ/မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ Guotai Guohua Garment Myanmar Limited နှင့် ပတ်သက်၍ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဒေါ်တင်တင်ဝင်း (တယ်လီဖုန်း- ၀၉ ၄၂၀၀၅၆၃၄၁)နှင့် ဒေါ်မာမာဝင်း(တယ်လီဖုန်း - ၀၉၇၉၃၂၁၇၃၆၅၊ ၀၉၅၀၅၁၄၇၀) ဖြစ်ပါကြောင်း အသိပေးအပ်ပါ သည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရန်ကုန်တိုင်းဦးစီးမှူး၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာန

Guotai Guohua Garment Myanmar Limited

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက- ၃/ န-၁၃၈၁/ ၂၀၁၆ (၁၁၂၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၃ ရက်

သို့

**အဖွဲ့ခေါင်းဆောင်**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**
**One Stop Service အဖွဲ့**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ် ၄၅ ပါ ပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန ၏ သဘောထားကို တောင်းခံရယူရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်**အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအား ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ Guotai Guohua Garment Myanmar Limited နှင့် ပတ်သက်၍ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဒေါ်တင်တင်ဝင်း (တယ်လီဖုန်း- ၀၉ ၄၂၀၀၅၆၃၄၁)နှင့် ဒေါ်မာမာဝင်း(တယ်လီဖုန်း - ၀၉၇၉၃၂၀၇၃၆၅၊ ၀၉၅၀၅၁၄၇၀) ဖြစ်ပါကြောင်း အသိပေးအပ်ပါ သည်။

23/8/16.

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
Guotai Guohua Garment Myanmar Limited
ရုံးလက်ခံ/ မျှောစာတွဲ

၂၅/၈/၂၀၁၆ [illegible]

goutai -forestry

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ် ၁၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၃

စာအမှတ်၊ မရက-၃/န-၁၃၈၁/၂၀၁၆(၁၁၂၁)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၄ ရက်

သို့
**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**
ရည် ညွှန်း ချက်။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအခန်း(၆) အပိုဒ် ၄၆ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင်သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ခုနစ်ရက်**အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအား ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ Guotai Guohua Garment Myanmar Limited နှင့် ပတ်သက်၍ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဒေါ်တင်တင်ဝင်း (တယ်လီဖုန်း- ၀၉ ၄၂၀၀၅၆၃၄၁)နှင့် ဒေါ်မာမာဝင်း(တယ်လီဖုန်း - ၀၉၇၉၃၂၀၇၃၆၅၊ ၀၉၅၀၅၁၄၇၀) ဖြစ်ပါကြောင်း အသိပေးအပ်ပါ သည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
Guotai Guohua Garment Myanmar Limited
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ် ၁၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ -၀၁-၆၅၈၁၂၈ | စာအမှတ်၊ မရက- ၃/န-၁၃၈၁/၂၀၁၆ (၁၁၂)

🖷 -၀၁-၆၅၈၁၄၃ | ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၄ ရက်

သို့

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

**အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Guotai Guohua Garment Myanmar Limited ၏ ၁၇-၈-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြုတင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ် (၄၆)ပါ ပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များ အပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးပါရန် အဆိုပြုလွှာတစ်စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ-မရှိ။

( ခ ) CMP လက်ခနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ- မရှိ။

( ဂ ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အား/ လူအင်အား အချိုးအစား ညီမျှမှု ရှိ-မရှိ။

၄။ Guotai Guohua Garment Myanmar Limited နှင့် ပတ်သက်၍ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဒေါ်တင်တင်ဝင်း (တယ်လီဖုန်း- ၀၉ ၄၂၀၀၅၆၃၄၁)နှင့် ဒေါ်မာမာဝင်း(တယ်လီဖုန်း - ၀၉၇၉၃၂၁၇၃၆၅၊ ၀၉၅၀၅၁၄၇၀) ဖြစ်ပါကြောင်း အသိပေးအပ်ပါ သည်။

ဥက္ကဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

Guotai Guohua Garment Myanmar Limited

ရုံးလက်ခံ/မျှော့ဝတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄. ၈. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက - ၃ / န - ၁၃၈၁ / ၂၀၁၆ (၁၁၂၀)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp.,Ltd. မှ ၉၉% နှင့် Mr. Ding, Caibin က ၁%တို့ အသီးသီးထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရန်ကုန်တိုင်း ဒေသကြီး လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ မြေကွက်အမှတ်-၄၈ ရှိ မြေဧရိယာစုစုပေါင်း ၂. ၂၇၃ ဧက (၉၁၉၈. ၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(မြင့်သောင်း၊ တိုင်းဒေသကြီးစီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို
ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Guotai Guohua Garment Myanmar Limited
ရုံးလက်ခံ
မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၂၁၃/၁၆ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၄ ရက်

26/8/16

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၃/ န-၁၃၈၁/ ၂၀၁၆(၁၁၂၃)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉% နှင့် Mr. Ding, Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ) ရှိ မြေနှင့် အဆောက်အဦးအား ငှားရမ်း၍ CMP စနစ်ဖြင့်အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး (၁၀) နှစ်နှင့် (၅) နှစ်သက်တမ်းတိုး (၂) ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကာကွယ်ရေးအစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility – CSR )

လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် ထိန်းသိမ်းကာကွယ်ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ အနံ့အသက်များ ကောင်းမွန်စေရေးအတွက် ရေမြောင်းစနစ်များ ဆောင်ရွက်ကာ ပတ်ဝန်းကျင်စိမ်းလန်းစိုပြေရေးအတွက် သစ်ပင်၊ ပန်းပင်များအား စိုက်ပျိုးသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Guotai Guohua Garment Myanmar Limited မှ အထည်ချုပ်လုပ်ငန်းများ ဆောင်ရွက်ရာတွင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်ပြီး မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊ ပုံစံဖြတ်ခြင်း၊ ပိတ်စညှပ်ခြင်းလုပ်ငန်းအဆင့်များတွင် ထွက်ရှိလာမည့်ဖြတ်စ၊ ညှပ်စ၊ အမှုန်အမွှားများကြောင့်လေထုနှင့် မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်း

များအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** ( Environmental Management Plan – EMP ) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/န-၁၃၈၁/၂၀၁၆(၁၁၆၉)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၅ ရက်

အကြောင်းအရာ။ **Guotai Guohua Garment Myanmar Limited သို့ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင်တင်ပြရန် ကိစ္စ**

ရည် ညွှန်း ချက် ။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ ၂၆-၈-၂၀၁၆ ရက်စွဲပါစာ အမှတ် ၀၀၁/MIC(OSS)/၀၁(၂၁၃/၁၆)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ အောက်ပါ အတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံး ပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ် များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း /စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင် စီမံ**

ခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များ နှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက် များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါအချက်များအား သိရှိနိုင်ပါရန်နှင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို သိရှိလိုက်နာ ဆောင်ရွက်နိုင်ပါရန်နှင့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan-EMP) အစီရင်ခံစာကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ပေးပို့ရန် အကြောင်းကြားပါသည်။

၅-၉-၂၀၁၆

အတွင်းရေးမှူး( ကိုယ်စား)

(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

Guotai Guohua Garment Myanmar Limited
မြေကွက်အမှတ်-၄၈၊မြေတိုင်း ရပ်ကွက်အမှတ်-၂၄၊
ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊
**ရန်ကုန်တိုင်းဒေသကြီး**

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Cho Yee Win
09-5051470

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၆ - ၂၀၁၇(၁၄၇၆)

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၄ ရက်

NPT-၈၄၄၇
15.9.16

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

M-1492
16/9

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၈.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃/ န-၁၃၈၁ / ၂၀၁၆ (၁၁၂၁)

၁။ Guotai Guohua Garment Myanmar Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄၈)တွင် CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်းမှာ ဆီလျော်မှုရှိပါသည်။

(စ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်းမှာ Pants အတွက် Lining သုံးစွဲမှုနှုန်း များနေသဖြင့် လျှော့နည်းပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဆ) နှစ်အလိုက် ကုန်ထုတ်လုပ်မှုတင်ပြချက်နှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်း ဆီလျော်မှုရှိပါသည်။

(ဇ) ကုန်ထုတ်လုပ်မှုနှင့် စက်အင်အား ဆီလျော်မှုရှိသော်လည်း ကျွမ်းကျင်ဝန်ထမ်းဖြည့်တင်းရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ စာအမှတ်၊ မရက- ၃/ န-၁၃၈၁/၂၀၁၆(၁၂၅၀)
ဖက်(စ်)- ၀၁-၆၅၈၁၄၁ ရက်စွဲ ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၀ ရက်

အကြောင်းအရာ။ **Guotai Guohua Garment Myanmar Limited သို့ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၁၄-၉-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၆-၂၀၁၇(၁၄၇၆)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd. မှ ၉၉ % နှင့် Mr. Ding , Caibin က ၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၈၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၂.၂၇၃ ဧက (၉၁၉၈.၅၁၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် စက်မှုဝန်ကြီးဌာန မှ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန်။

(ခ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်းမှာ Pants အတွက် Lining သုံးစွဲမှုနှုန်းများနေသဖြင့် လျှော့နည်းပြင်ဆင်တင်ပြရန်။

(ဂ) ကုန်ထုတ်လုပ်မှုနှင့် စက်အင်အား ဆီလျော်မှုရှိသော်လည်း ကျွမ်းကျင်ဝန်ထမ်းဖြည့်တင်းရန်။

၂။ သို့ဖြစ်ပါ၍ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို သိရှိနိုင်ပါရန်နှင့် ပြင်ဆင်၍ ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

၂၀-၉-၂၀၁၆
အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

**Guotai Guohua Garment Myanmar Limited**
**မြေကွက်အမှတ်-၄၈၊မြေတိုင်းရပ်ကွက်အမှတ်-၂၄၊**
**ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊**
**ရန်ကုန်တိုင်းဒေသကြီး**
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း- ၀၁-၆၅၈၁၂၈
ဖက်(စ်) - ၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက- ၃/န-၁၃၈၁/၂၀၁၆ (၁၂၆၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၈ ရက်

M-1591
4/10

## အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်

၁။ Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် ဌာန၏လမ်းညွှန်ချက်နှင့်အညီ ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် တင်ပြလာပါသည်။

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| က | စက်မှုဝန်ကြီးဌာန | | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | (signature) |
| ခ | အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | [illegible] | [illegible] | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | (signature) |

၂။ ၎င်းပြင်ဆင်ချက်ကို အထက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature)
၂၈-၉-၂၀၁၆
အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆( ၈၈၁၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၆ ရက်

သို့

npt-2401
9.9.2016

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-1468
12/9

အကြောင်းအရာ။ **Guotai Guohua Garment Myanmar Limited မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၈-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/န-၁၃၈၁/၂၀၁၆(၁၁၂၂)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန် ၊ မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ မြေကွက် အမှတ် (၄၈)၌ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင်ဖွဲ့စည်းထားသော Jiangsu Guotai Int'l Group Guohua Corp., Ltd က ၉၉% နှင့် Mr. Ding Caibin က ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Guotai Guohua Garment Myanmar Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် ရန်ကုန်တိုင်းဒေသကြီး CMP လုပ်ငန်းများမြေပြင် ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်မို့မို့သွင်၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ဒုတိယ ညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်း နှင့် အထည်ချုပ်စက်ရုံအမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာ တို့သည် ၃၀-၈-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ Guotai Guohua Garment Myanmar Limited ၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု ကို စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

**(က) CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| ချုပ်ထည် | တစ်ထည်လိုအပ်ချက်နှုန်းထား | ကိုက်ညီမှုရှိ/မရှိ |
|---|---|---|
| 1. Jacket | 1.76 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Pants | 1.617 yds/pc | ကိုက်ညီမှုမရှိပါ။ |
| 3. Shirt | 1.21 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 4. Coat | 2.29 yds/pc | ။ |
| 5. Parka | 2.2 yds/pc | ။ |
| 6. Blouse | 1.1 yds/pc | ။ |

D:\NPT(ET)\2016\CMP & MIC\CMP(9-2016)\TO MIC.docx

